

ပုံစံ (၅-က)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
## အတည်ပြုမိန့်

အတည်ပြုမိန့်အမှတ် ၁၅၆/၂၀၁၉ ၂၀၁၉ ခုနှစ်၊ ဇူလိုင် လ ၁၁ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၂၅(ဃ) အရ ဤအတည်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) ရင်းနှီးမြှုပ်နှံသူအမည် ဦးတင်လတ်

(၂) နိုင်ငံသား မြန်မာ

(၃) နေရပ်လိပ်စာ K-3၊ ရွှေအင်ကြင်းရိပ်မွန်၊ သုဝဏ္ဏ၊ သင်္ဃန်းကျွန်းမြို့နယ်၊ ရန်ကုန်မြို့

(၄) ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ CHIN DWIN SEE ZAR COMPANY LIMITED၊ အမှတ်-၃၊ ဗိုလ်တထောင်ဈေးလမ်းနှင့် ကုန်သည်လမ်းထောင့်၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့

(၅) ဖွဲ့စည်းရာအရပ် မြန်မာ

(၆) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား ပညာရေးဝန်ဆောင်မှုလုပ်ငန်း

(၇) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ) စံပယ်ကွန်ဒို၊ ပုလဲလမ်း၊ ၃၁လမ်းနှင့် ၃၂ လမ်းကြား၊ ၇၇ လမ်း နှင့် ၇၈လမ်းကြား၊ ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးတိုင်းဒေသကြီး

(၈) နိုင်ငံခြားမတည်ငွေရင်းပမာဏ မရှိ

(၉) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ မရှိ

(၁၀) စုစုပေါင်းမတည်ငွေရင်းပမာဏ(ကျပ်) ကျပ် ၅,၃၅၈.၅၈ သန်း (ကျပ် ငါးထောင်သုံးရာငါးဆယ့်ရှစ်သန်း နှင့် ငါးသိန်းရှစ်သောင်းခန့်)

(၁၁) တည်ဆောက်မှု/ပြင်ဆင်မှုကာလ မရှိ

(၁၂) အတည်ပြုမိန့်သက်တမ်း ၅၀ နှစ်

(၁၃) ရင်းနှီးမြှုပ်နှံမှုပုံစံ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) မြန်မာနိုင်ငံတွင် ဖွဲ့စည်းမည့် ကုမ္ပဏီအမည် CHIN DWIN SEE ZAR COMPANY LIMITED

Thaung Tun

(သောင်းထွန်း)
ဥက္ကဋ္ဌ



Form (5-A)

E000060

# THE REPUBLIC OF THE UNION OF MYANMAR

## Myanmar Investment Commission

## ENDORSEMENT

Endorsement No. 156 /2019 Dated 5 July 2019

This endorsement is issued by the Myanmar Investment Commission in accordance with Section 25 (d) of the Myanmar Investment Law-

(1) Investor Name U TIN LATT

(2) Citizenship MYANMAR

(3) Residential Address K-3, SHWE INNGYIN YEIK MON, THUWANA, THINGANGYUN TOWNSHIP, YANGON

(4) Name and Address of Principal Organization CHIN DWIN SEE ZAR COMPANY LIMITED, NO.3, CORNER OF BOTATHAUNG ZAY STREET AND MERCHANT ROAD, BOTATHAUNG TOWNSHIP, YANGON

(5) Place of Incorporation MYANMAR

(6) Type of Business EDUCATION SERVICES

(7) Place(s) of Investment Project SABAI CONDO, PEARL STREET, BETWEEN 31st ST. and 32nd ST., BETWEEN 77th ST. AND 78th ST., CHAN AYE THAR ZAN TOWNSHIP, MANDALAY REGION

(8) Foreign Capital Amount NIL

(9) Period for Foreign Capital to be brought in NIL

(10) Total Amount of Capital (Kyat) 5,358.580 MILLION

(11) Construction/ Preparation Period NIL

(12) Validity of Endorsement 50 YEARS

(13) Form of Investment MYANMAR CITIZEN INVESTMENT

(14) Name of Company Incorporated in Myanmar

CHIN DWIN SEE ZAR COMPANY LIMITED




Thaung Tun

(Thaung Tun)

Chairperson

ကန့်သတ်




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

စာအမှတ်၊ မရက- ၅(အ)/အ-၀၀၈/၂၀၁၉(၃၄၃၉)
ရက်စွဲ၊ ၂၀၁၉ ခုနှစ် ဇူလိုင် လ ၁ ရက်

အကြောင်းအရာ။ **Chin Dwin See Zar Company Limited (ချင်းတွင်းဆည်းဆာကုမ္ပဏီလီမိတက်) ၏ ပညာရေးဝန်ဆောင်မှုလုပ်ငန်း အတည်ပြုမိန့်အပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ဆုံးဖြတ်ချက်**

ရည် ညွှန်း ချက်။ Chin Dwin See Zar Company Limited (ချင်းတွင်းဆည်းဆာကုမ္ပဏီလီမိတက်) ၏ (၆-၅-၂၀၁၉) ရက်စွဲပါစာ

၁။ Chin Dwin See Zar Company Limited (ချင်းတွင်းဆည်းဆာကုမ္ပဏီလီမိတက်) မှ စံပယ်ကွန်ဒို၊ ပုလဲလမ်း၊ ၃၁လမ်းနှင့် ၃၂ လမ်းကြား၊ ၇၇ လမ်း နှင့် ၇၈လမ်းကြား၊ ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးတိုင်းဒေသကြီးတွင် ပညာရေးဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာတင်ပြလာခြင်းအား ၂၀၁၉ ခုနှစ် ဇွန် လ ၂၈ ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၀/၂၀၁၉) ကြိမ်မြောက် အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေများကို ကျင့်သုံးလျက် Chin Dwin See Zar Company Limited (ချင်းတွင်းဆည်းဆာကုမ္ပဏီလီမိတက်) အား ပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် အတည်ပြုမိန့်အမှတ်၊ ၁၅၆/၂၀၁၉ ကို ထုတ်ပေးလိုက်သည်။

၂။ Chin Dwin See Zar Company Limited (ချင်းတွင်းဆည်းဆာကုမ္ပဏီလီမိတက်) အနေဖြင့် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ပါအချက်များကို လိုက်နာဆောင်ရွက်ရမည်-

(က) Chin Dwin See Zar Company Limited (ချင်းတွင်းဆည်းဆာကုမ္ပဏီလီမိတက်) အနေဖြင့် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၈) ပုဒ်မ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့် အချက်များနှင့်အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

ကန့်သတ်

(ခ) Chin Dwin See Zar Company Limited (ချင်းတွင်းဆည်းဆာကုမ္ပဏီလီမိတက်) သည် ဤအတည်ပြုမိန့်အရ ဝန်ဆောင်မှုရည်မှန်းချက်များကို အကောင်းဆုံးရည်မှန်းချက်များအဖြစ် အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

(ဂ) Chin Dwin See Zar Company Limited (ချင်းတွင်းဆည်းဆာကုမ္ပဏီလီမိတက်) အနေဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၆၅ နှင့် နည်းဥပဒေ အခန်း (၂၀) တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(ဃ) Chin Dwin See Zar Company Limited (ချင်းတွင်းဆည်းဆာကုမ္ပဏီလီမိတက်) သည် အတည်ပြုလုပ်ငန်း ဆောင်ရွက်ရာတွင် သက်ဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့် အညီ ဆောင်ရွက်ရမည်။

(င) Chin Dwin See Zar Company Limited (ချင်းတွင်းဆည်းဆာကုမ္ပဏီလီမိတက်) သည် လုပ်ငန်းဆောင်ရွက်ရာတွင် ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသား ပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များ နှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(စ) Chin Dwin See Zar Company Limited (ချင်းတွင်းဆည်းဆာကုမ္ပဏီလီမိတက်) သည် ဤအတည်ပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေးစနစ်များကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အမိန့်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများ၊ သဲအိတ်များကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေးလုပ်ငန်းသုံးပစ္စည်းများ အသုံးပြုတတ် စေရန်အတွက် သင်တန်းများပေးခြင်းနှင့် မီးသတ်အရာရှိတစ်ဦး ခန့်အပ်ခြင်းတို့ကို ဆောင်ရွက်ရမည်။

(ဆ) Chin Dwin See Zar Company Limited (ချင်းတွင်းဆည်းဆာကုမ္ပဏီလီမိတက်) သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်း ကာလအတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာလွှဲပြောင်းခြင်းနှင့် လုပ်ငန်းလွှဲပြောင်းခြင်း

တို့ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၇၂ နှင့် နည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရမည်။

(ဓ) Chin Dwin See Zar Company Limited (ချင်းတွင်းဆည်းဆာကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုနည်းဥပဒေ ၁၉၆ အရ အတည်ပြုမိန့် သို့မဟုတ် သက်သာခွင့် ရရှိထားသော ရင်းနှီးမြှုပ်နှံသူသည် နှစ်စဉ်ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များပါရှိသည့် နှစ်စဉ်အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက်(ဘ်) ဆိုဒ်သို့ တင်ပြရမည်။

(ဈ) Chin Dwin See Zar Company Limited (ချင်းတွင်းဆည်းဆာကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုနည်းဥပဒေ ၁၉၇ အရ လုပ်ငန်းဆောင်ရွက်နေစဉ်အတွင်း လုပ်ငန်းအစီရင်ခံစာကို သုံးလလျှင် တစ်ကြိမ် ကော်မရှင်က သတ်မှတ်တောင်းခံသည့် ပုံစံဖြင့် တင်ပြရမည်။

၃။ Chin Dwin See Zar Company Limited (ချင်းတွင်းဆည်းဆာကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၆၅ (ဃ) အရ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင် ဖြစ်စေ သက်ဆိုင်ရာဌာန သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ရမည်။

၄။ Chin Dwin See Zar Company Limited (ချင်းတွင်းဆည်းဆာကုမ္ပဏီလီမိတက်) သည် အတည်ပြုလုပ်ငန်းကို အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရဖြစ်စေ၊ အခြားလိုအပ်ချက်အရဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ သက်ဆိုင်ရာဌာနနှင့် မြေငှားရမ်းခြင်း စာချုပ် ချုပ်ဆိုသည်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင် ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များ နှင့်အညီဆောင်ရွက်ပြီး မိတ္တူ(၅) စုံစီအား ကော်မရှင်သို့ ပေးပို့ရမည်။

(သောင်းထွန်း)

ဥက္ကဋ္ဌ

Chin Dwin See Zar Company Limited (ချင်းတွင်းဆည်းဆာကုမ္ပဏီလီမိတက်)

ဖြန့်ဝေခြင်း

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ပြည်ထဲရေးဝန်ကြီးဌာန

ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန

သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ပညာရေးဝန်ကြီးဌာန

စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန

ရင်းနှီးမြှုပ်နှံမှုနှင့် နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

မန္တလေးတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ

မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၊ မန္တလေးမြို့

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အဆင့်မြင့်ပညာဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

မန္တလေးတိုင်းဒေသကြီးဦးစီးမှူးရုံး၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန